DG 9

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၇ ရက်

အကြောင်းအရာ။ **နွားများ ဝယ်ယူသယ်ဆောင်ခွင့် မပြုကြောင်း အကြောင်းကြားခြင်းကိစ္စ**

၁။ ဆွေဇင်ဖြိုးကုမ္ပဏီလီမိတက် (Swe Zin Phyo Co., Ltd.)သည် စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ (၄၀၀)အား ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် လုပ်ထုံးလုပ်နည်းနှင့်အညီ ကူညီ ဆောင်ရွက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညှိနှိုင်းအကြောင်းကြားစာနှင့်အတူ တင်ပြလာခြင်းအား (၂၃-၂-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ Cabinet အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၈) ဆုံးဖြတ်ချက်(၁၁)အရ ခွင့်မပြုကြောင်း စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကုမ္ပဏီသို့ အကြောင်းကြားစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မိတ္တူပေးပို့လာခြင်းအပေါ် ဥက္ကဋ္ဌထံ တင်ပြမည့် NS အား ပြုစု တင်ပြအပ်ပါသည်။

(ကြည်ဌေး)
ဒုတိယဦးစီးမှူး

**လက်ထောက်ညွှန်ကြားရေးမှူး**

၂။ ဆွေဇင်ဖြိုးကုမ္ပဏီလီမိတက် (Swe Zin Phyo Co. Ltd)သည် စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ (၄၀၀) အား ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် ကူညီဆောင်ရွက်ပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညှိနှိုင်းအကြောင်းကြားစာနှင့်အတူ တင်ပြလာခြင်းအား စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့မှ Cabinet အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၈) (၂၃-၂-၂၀၁၈)ရက်နေ့ ဆုံးဖြတ်ချက် (၁၁)အရ ခွင့်မပြုကြောင်း ကုမ္ပဏီသို့ အကြောင်းကြားစာအား ပေးပို့ခဲ့ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မိတ္တူပေးပို့လာခြင်းအပေါ် ဥက္ကဋ္ဌထံ တင်ပြမည့် NS အား ပြုစု တင်ပြအပ်ပါသည်။

ခင်မြင့်ယု

ဒုတိယညွှန်ကြားရေးမှူး

၃။ တာဝန်

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၄ ရက်

အကြောင်းအရာ။ **နွားများ ဝယ်ယူသယ်ဆောင်ခွင့် မပြုကြောင်း အကြောင်းကြားခြင်းကိစ္စ**

၁။ ဆွေဇင်ဖြိုးကုမ္ပဏီလီမိတက် (Swe Zin Phyo Co., Ltd.)သည် စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ (၄၀၀)အား ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် လုပ်ထုံးလုပ်နည်းနှင့်အညီ ကူညီ ဆောင်ရွက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညှိနှိုင်းအကြောင်းကြားစာနှင့်အတူ တင်ပြလာခြင်းအား (၂၃-၂-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ Cabinet အစည်းအဝေး အမှတ်စဉ် (၄/၂၀၁၈) ဆုံးဖြတ်ချက်(၁၁)အရ ခွင့်မပြုကြောင်း စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ကုမ္ပဏီသို့ အကြောင်းကြားစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မိတ္တူပေးပို့လာခြင်းဖြစ်ပါသည်။ အလံ "၁"

၂။ အဆိုပါကိစ္စရပ်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ဆွေဇင်ဖြိုးကုမ္ပဏီလီမိတက် (Swe Zin Phyo Co., Ltd.)သည် ရှမ်းပြည်နယ်မြောက်ပိုင်း၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ၅/တာတိုင်ရွာမကွင်း၊ သုံးဆယ်ကျေးရွာအုပ်စု၊ ဦးပိုင် အမှတ်(၁၆)ရှိ မြေဧရိယာ (၁၅.၄၂)ဧကတွင် နို့စားနွား၊ အသားစားကျွဲ၊ နွား မွေးမြူခြင်း၊ နို့နှင့် အေးခဲအမဲသား ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဧပြီလ ၈ ရက်စွဲဖြင့် ခွင့်ပြုမိန့်အမှတ်၊ မနသ-၉၇၆/၂၀၁၄ ကို ရရှိခဲ့ပါသည်။ အလံ "၂"

(ခ) မကွေးတိုင်းဒေသကြီးမှ နွားကောင်ရေ (၆၀၀)၊ စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ (၄၀၀)နှင့် မန္တလေးတိုင်းဒေသကြီးမှ နွားကောင်ရေ (၄၀၀)အား ဝယ်ယူ သယ်ဆောင်နိုင်ရေးအတွက် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့များထံသို့ လိုအပ်သည်များ ညှိနှိုင်း ပံ့ပိုးပေးနိုင်ပါရန် ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာသဖြင့် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ ထောက်ခံချက်နှင့်အတူ ပြန်လည် တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခဲ့ပါသည်။ အလံ "၃"

(ဂ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ "သက်ဆိုင်ရာဒေသအာဏာပိုင် အဖွဲ့အစည်းက သယ်ဆောင်မောင်းနှင်ရန် ခွင့်ပြုသတ်မှတ်ထားသည့် တိရစ္ဆာန်များ၏ ကျန်းမာရေးအခြေအနေကို စစ်ဆေး၍ ကျန်းမာရေးထောက်ခံချက် လက်မှတ် AHD/PC(3) ထုတ်ပေးခြင်း" ကို လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ပေးလျက်ရှိပါ၍ သက်ဆိုင်ရာ ကုမ္ပဏီ

အနေဖြင့် ဥပဒေအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ရွှေ့ပြောင်းမွေးမြူရန်အတွက် နွားများ ဝယ်ယူသယ်ဆောင်နိုင်ခွင့် ကိစ္စနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသဖြင့် နွားအကောင် (၁၄၀၀)ကို ဝယ်ယူ သယ်ဆောင်နိုင်ရေးအတွက် လိုအပ်သည်များကို လုပ်ထုံးလုပ်နည်းနှင့်အညီ ကူညီ ဆောင်ရွက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့များသို့ ညှိနှိုင်းအကြောင်းကြားစာ ပေးပို့ခဲ့ခြင်း ဖြစ်ပါသည်။ အလံ "၄"

(ဃ) ထို့အပြင် စီးပွားရေးနှင့် ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာန၏ အမိန့်ကြော်ငြာစာအမှတ်၊ ၄၉/၂၀၁၇ (၉-၁၀-၂၀၁၇)ဖြင့် ကျွဲ၊ နွားအရှင်များအားပြည်ပသို့ တရားဝင်တင်ပို့ခွင့်အား ခွင့်ပြုထားပါသည်။ အလံ "၅"

၃။ သို့ဖြစ်ပါ၍ ဆွေဇင်ဖြိုးကုမ္ပဏီလီမိတက် (Swe Zin Phyo Co., Ltd.)၏ စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ(၄၀၀) ဝယ်ယူသယ်ဆောင်ခြင်း ကိစ္စရပ်သည် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားထားပြီး စီးပွားရေးနှင့်ကူးသန်း ရောင်းဝယ်ရေးဝန်ကြီးဌာနမှ ခွင့်ပြုသည့် လုပ်ငန်းဖြစ်သော်လည်း စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ခွင့်မပြု(မပြု)ခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

၄။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
**စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာမြို့**

စာအမှတ် ၊ ၃ / ၆ - ၃ (၆၃) / ( ၁၃၉ ) မူဝါဒ
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၈ ရက်

သို့

မန်နေဂျင်းဒါရိုက်တာ
ဆွေဇင်ဖြိုးကုမ္ပဏီ
အမှတ်(၂၃၉)၊ အကွက်ကြီး-၇၊ အေးစေတီရပ်ကွက်၊ မြစ်ကြီးနားမြို့

အကြောင်းအရာ။ **နွားများ ဝယ်ယူသယ်ဆောင်ခွင့်မပြုကြောင်း အကြောင်းကြားခြင်း**

ရည်ညွှန်းချက်။ ဆွေဇင်ဖြိုးကုမ္ပဏီ၏ (၂၆-၁၂-၂၀၁၇)ရက်စွဲပါစာအမှတ်၊ ၀၀၂/ ၂၀၁၇

၁။ ရှမ်းပြည်နယ်မြောက်ပိုင်း၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ၅/တာတိုင်ရွာမကွင်း၊ သုံးဆယ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၆)ရှိ မြေဧရိယာ(၁၅.၄၂)ဧကတွင် နို့စားနွား၊ အသားစာကျွဲ၊ နွားမွေးမြူခြင်း၊ နို့နှင့်အေးခဲအမဲသားထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ(၄၀၀)အား ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် လုပ်ထုံးလုပ်နည်းများနှင့်အညီ ကူညီဆောင်ရွက် ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ညှိနှိုင်းအကြောင်းကြားစာနှင့်အတူ ရည်ညွှန်းစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၂၃-၂-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ Cabinet အစည်းအဝေးအမှတ်စဉ်(၄/၂၀၁၈) ဆုံးဖြတ်ချက်(၁၁)အရ စစ်ကိုင်းတိုင်းဒေသကြီးမှ နွားကောင်ရေ (၄၀၀)အား ဝယ်ယူသယ်ဆောင်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် ခွင့်မပြု (မပြု)ကြောင်း အကြောင်းကြား ပါသည်။

( မြတ်ကျော်ကျော် )
အတွင်းရေးမှူး

မိတ္တူကို

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့
ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ တောင်ကြီးမြို့
တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မုံရွာမြို့
တိုင်းဒေသကြီးမွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ မုံရွာမြို့
Cabinet ဌာနစိတ်၊ စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ မုံရွာမြို့
ရုံးလက်ခံ / မျှောစာတွဲ

ပုံစံ (မနသ-၂)

စာအမှတ် ၃၈၉၅-၃

ရက်စွဲ ၈-၄-၂၀၁၄

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၇၆ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဧပြီ လ ၈ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးလီးရင်ရှင် (ခ) မြင့်ဆွေ

(ခ) **အဘ အမည်** ဦးလီချုန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁/ဝမန(ဧည့်) ၀၀၀၁၄၄

(ဃ) **နေရပ်လိပ်စာ** အမှတ် (၂၃၉)၊ အေးစေတီရပ်ကွက်၊ နယ်မြေ(၇)၊ မြစ်ကြီးနားမြို့၊ ကချင်ပြည်နယ်။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** နို့စားနွား၊ အသားစား ကျွဲ၊ နွား မွေးမြူခြင်း၊ နို့ နှင့် အေးခဲ အမဲသား ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရှမ်းပြည်နယ်မြောက်ပိုင်း၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ၅/တာတိုင်ရွာမကွင်း၊ သုံးဆယ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၆) ရှိ မြေ ဧရိယာ (၁၅.၄၂)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၀၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၀.၂၃၇ သန်း အပါအဝင် ကျပ် သန်းတစ်ထောင် တိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၈ /၂၀၁၄ (မနသ)
၂၀၁၄ ခုနှစ် ဧပြီလ ၈ ရက်

၁။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် ကုမ္ပဏီ၏ ဒါရိုက်တာ ဒေါ်မိုးရင်ဝင်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ရှမ်းပြည်နယ်မြောက်ပိုင်း၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ၅/တာတိုင်ရွာမကွင်း၊ သုံးဆယ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၆)ရှိ မြေ ဧရိယာ (၁၅.၄၂) ဧက တွင် နို့စားနွား၊ အသားစား ကျွဲ၊ နွား မွေးမြူခြင်း၊ နို့ နှင့် အေးခဲ အမဲသား ထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၉-၃-၂၀၁၄) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၁၀/၂၀၁၄) အစည်း အဝေး ၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) အား နို့စားနွား၊ အသားစား ကျွဲ၊ နွား မွေးမြူခြင်း၊ နို့ နှင့် အေးခဲ အမဲသား ထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၉၇၆/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှုလုပ်ငန်း စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ ရရှိသောအမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်

(၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက် သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကိုဖော်ပြလျက် ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန် တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပ မှ တင်သွင်းသော ယာဉ်ယန္တရား၊ စက် ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ) အရ ဝင်ငွေခွန် စည်းကြပ်ရန် အလို့ငှာ ယာဉ်ယန္တရား၊ စက် ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည် ပစ္စည်းများအပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက် နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့ နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှုပြီးစီး၍ ပထမ သုံးနှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြု ရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက် ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ပြည်ပ သို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများ အပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို ဤကော်မရှင် သို့ တင်ပြ လျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက် ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက် ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာ ဆောင်ရွက်ရမည်။

၄။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း ၏ စာရင်းများကို သီးခြား ပြုစုထားရှိရ မည်။

၆။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) ၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ဒါရိုက်တာ ဒေါ်မိုးရင်ဝင်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ယာမြေ(၁၅.၄၂) ဧက ကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ အဆိုပါ ယာမြေအား လယ်ယာမြေ ဥပဒေပုဒ်မ ၃၀(ခ)အရ လယ်ယာမြေအား အခြားအသုံးပြုခွင့် ရရှိပြီးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ Swe Zin Phyo Co., Ltd. အမည်ပေါက် ဖြစ်စေရေး အတွက် ရှမ်းပြည်နယ် မြေစာရင်းဦးစီးဌာန သို့ လျှောက်ထား ဆောင်ရွက်ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ (၅)စောင်ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန် အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) လုပ်ငန်း ဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်း/စွန့်ပစ်ရည် များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါး

ရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ကို ရေးဆွဲ တင်ပြရန် ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင် နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၉။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ အာဆီယံ နိုင်ငံများ ၏ သတ်မှတ်ချက်များနှင့်အညီ Good Manufacturing Practice စနစ်ဖြင့် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်အတိုင်း လိုက်နာရမည်။

၁၀။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းကို လုပ်ကိုင်ရာတွင် တိရစ္ဆာန်ကျန်းမာရေး နှင့် ဖွံ့ဖြိုးရေး ဥပဒေအရ ထုတ်ပြန်ထားသည့် တိရစ္ဆာန် ကျန်းမာရေးနှင့် ကူးစက်ရောဂါကာကွယ်ရေးဆိုင်ရာ သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၁။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် ကျန်းမာရေး ဝန်ကြီးဌာန၊ အစားအသောက် နှင့် ဆေးဝါးကွပ်ကဲရေး ဦးစီးဌာန ၏ ညွှန်ကြားချက်များနှင့် အမျိုးသားအစားအသောက်ဥပဒေတို့ကို လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမား များ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်း ဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက် ရမည်။

၁၃။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန ၏ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန် အတွက် သင်တန်းများ ပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်းစနစ်တကျထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ရှမ်းပြည်နယ် စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေးဦးစီးဌာန တွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် သားသတ်လိုင်စင်ရရှိရေး အတွက် မွေးမြူရေး၊ ရေလုပ်ငန်း နှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန နှင့် သက်ဆိုင်ရာ မြို့နယ် စည်ပင်သာယာရေးအဖွဲ့ တို့မှ သတ်မှတ်ညွှန်ကြားချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာ ကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက် မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက် ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဥ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို

တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြားအဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် ၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်း ခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဝင်းရှိန်)

ဥက္ကဋ္ဌ

စာအမှတ်၊ရကေ- ၆(က)/မ- ၁၃၈၉/၂၀၁၄( ၃၈၉၅- ၃ )

ရက် စွဲ၊ ၂၀၁၄ ခုနှစ် ဧပြီ လ ၈ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ကန့်သတ်

၃

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ တောင်ကြီးမြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

**ကန့်သတ်**

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
အုပ်ချုပ်မှုဒါရိုက်တာ၊ Swe Zin Phyo Co., Ltd. (ဆွေဇင်ဖြိုး ကုမ္ပဏီလီမိတက်)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့**

တယ်လီဖုန်း- ၀၁-၆၅၇၈၂၄
ဖက်(စ်)- ၀၁- ၆၅၇၈၂၄

စာအမှတ်၊ မရက- ၉ /မ-ထွေ /၂၀၁၇(၃၆၄၀)
ရက်စွဲ၊ ၂၀၁၆ခုနှစ် စက်တင်ဘာလ ၂၁ ရက်

အကြောင်းအရာ။ **Swe Zin Phyo Co., Ltd.မှ နွားများဝယ်ယူ သယ်ဆောင်နိုင်ရေး အတွက် ထောက်ခံပံ့ပိုးပေးနိုင်ပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ Swe Zin Phyo Co., Ltd. ၏ ၆-၉-၂၀၁၇ ရက်စွဲပါစာ

၁။ Swe Zin Phyo Co., Ltd. မှ မကွေးတိုင်းဒေသကြီး၊ စစ်ကိုင်းတိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့မှ နွားများ ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့များထံသို့ လိုအပ်သည်များ ညှိနှိုင်း ပံ့ပိုးပေးနိုင်ပါရန် ရည်ညွှန်းပါစာ ဖြင့် ကော်မရှင်သို့ တင်ပြလာပါသည်။

၂။ ကုမ္ပဏီ၏ ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန၏ ထောက်ခံချက်နှင့်အတူ ဤကော်မရှင်ရုံးသို့ ပြန်လည်တင်ပြရန် ဖြစ်ကြောင်း အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

**မန်နေဂျင်းဒါရိုက်တာ**
**Swe Zin Phyo Co., Ltd.**

မိတ္တူကို
ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး
ပြည်ထောင်စုဝန်ကြီးရုံး၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ ရှမ်းပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ / မျှောစာတွဲ

MM-2802
16-10-17

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊၁/၂၀၀၀/ မွေးရေကျေး(၅၅၅၄/၂၀၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နွားများဝယ်ယူသယ်ဆောင်နိုင်ရေးတင်ပြသည့်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁-၉-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၉/ မ-ထွေ/၂၀၁၇ ( ၃၆၄၀ )
(၂) Swe Zin Phyo Co.,Ltd. ၏ ( ၂-၁၀-၂၀၁၇) ရက်စွဲပါတင်ပြစာ

P.1373
13.10.17

၁။ Swe Zin Phyo Co.,Ltd.မှ မကွေးတိုင်းဒေသကြီး၊ စစ်ကိုင်းတိုင်းဒေသကြီးနှင့်မန္တလေးတိုင်းဒေသကြီးတို့မှ နွားများဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့များထံသို့ လိုအပ်သည်များ ညှိနှိုင်းပံ့ပိုးပေးနိုင်ပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ ထောက်ခံချက်နှင့်အတူ ပြန်လည်တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် (၁)ပါစာဖြင့် သက်ဆိုင်ရာကုမ္ပဏီသို့ လိပ်မူပြီး မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနသို့ မိတ္တူပေးပို့လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနအနေဖြင့်တိရစ္ဆာန်အရှင်နှင့်တိရစ္ဆာန်ထွက်ပစ္စည်းများပြည်တွင်းတွင်သယ်ယူပို့ဆောင်ခြင်းကို(၁၀-၈-၁၉၉၉)ရက်စွဲပါ တိရစ္ဆာန် ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေနှင့်စပ်လျဉ်းသည့်ညွှန်ကြားချက် ၁/၉၉၊အခန်း(၂)တိရစ္ဆာန်ဖြတ်သန်းသွားလာမှုကိုစစ်ဆေးခြင်းပါအပိုဒ်(ဂ)အရ **" သက်ဆိုင်ရာဒေသအာဏာပိုင်အဖွဲ့အစည်းက သယ်ဆောင်မောင်းနှင်ရန် ခွင့်ပြုသတ်မှတ်ထားသည့် တိရစ္ဆာန်များ၏ ကျန်းမာရေးအခြေအနေကို စစ်ဆေး၍ ကျန်းမာရေး ထောက်ခံချက် လက်မှတ် AHD / PC(3)ထုတ်ပေးခြင်း "** ကို လုပ်ထုံးလုပ်နည်းများနှင့်အညီဆောင်ရွက်ပေးလျက်ရှိပါ၍ သက်ဆိုင်ရာကုမ္ပဏီအနေဖြင့် ဥပဒေအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ရွှေ့ပြောင်းမွေးမြူရန်အတွက် နွားများဝယ်ယူသယ်ဆောင်နိုင်ခွင့်ကိစ္စနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားပေးပို့ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- ညွှန်ကြားရေးမှူးချုပ်
  မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- မန်နေဂျင်းဒါရိုက်တာ
  Swe Zin Phyo Co.,Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့**

တယ်လီဖုန်း- ၀၁-၆၅၇၈၂၄ | စာအမှတ်၊ မရက -၉/ မ-ထွေ / ၂၀၁၇ ( ၄၉၁၅ )
ဖက်(စ်)- ၀၁- ၆၅၇၈၂၄ | ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၂ ရက်

**သို့**

**မကွေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**
**စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**
**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**

အကြောင်းအရာ။ **Swe Zin Phyo Co., Ltd. မှ နွားများဝယ်ယူသယ်ဆောင်နိုင်ရေး အတွက် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့များထံသို့ ထောက်ခံပံ့ပိုး ကူညီဆောင်ရွက်ပေးနိုင်ပါရန် တင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ (၁) Swe Zin Phyo Co., Ltd. ၏ ၆-၉-၂၀၁၇ ရက်စွဲပါစာ
(၂) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ ၁၁-၁၀-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၁/၂၀၀၀/မွေးရေကျေး(၅၇၇၃/၂၀၁၇)

၁။ Swe Zin Phyo Co.,Ltd. သည် ရှမ်းပြည်နယ်မြောက်ပိုင်း၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ၅/တာတိုင်ရွာမကွင်း၊ သုံးဆယ်ကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (၁၆)ရှိ မြေဧရိယာ (၁၅.၄၂)ဧကတွင် နို့စားနွား၊ အသားစားကျွဲ၊ နွား မွေးမြူခြင်း၊ နို့နှင့် အေးခဲ အမဲသား ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ် ဧပြီလ ၈ ရက်နေ့ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ်၊ မနသ - ၉၇၆/၂၀၁၄ ကို ရရှိခဲ့ပါသည်။

၂။ Swe Zin Phyo Co.,Ltd.မှ မကွေးတိုင်းဒေသကြီး၊ စစ်ကိုင်းတိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့မှ နွားများ ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့များထံသို့ လိုအပ်သည်များ ညှိနှိုင်းပံ့ပိုးပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ကော်မရှင်သို့ တင်ပြခဲ့ပါသည်။

၃။ ကုမ္ပဏီ၏ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ **"သက်ဆိုင်ရာ ဒေသအာဏာပိုင် အဖွဲ့အစည်းက သယ်ဆောင်မောင်းနှင်ရန် ခွင့်ပြုသတ်မှတ်ထားသည့် တိရစ္ဆာန်များ၏ ကျန်းမာရေးအခြေအနေကို စစ်ဆေး၍ ကျန်းမာရေး ထောက်ခံချက် လက်မှတ် AHD/ PC(3) ထုတ်ပေးခြင်း"** ကို လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ပေးလျက်ရှိပါ၍ သက်ဆိုင်ရာကုမ္ပဏီအနေဖြင့် ဥပဒေအတိုင်း လိုက်နာ

ဆောင်ရွက်မည်ဆိုပါက ရွှေ့ပြောင်းမွေးမြူရန်အတွက် နွားများ ဝယ်ယူ သယ်ဆောင်နိုင်ခွင့် ကိစ္စနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပါသည်။

၄။ Swe Zin Phyo Co.,Ltd.မှ ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြခဲ့သော ပူးတွဲပါ နွားအကောင် (၁၄၀၀)ကို မကွေးတိုင်းဒေသကြီး၊ စစ်ကိုင်းတိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့မှ ဝယ်ယူသယ်ဆောင်နိုင်ရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့များမှ လိုအပ်သည်များကို လုပ်ထုံးလုပ်နည်းနှင့်အညီ ကူညီဆောင်ရွက်ပေးနိုင်ပါရန် ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

ပြည်နယ်ဦးစီးမှူးရုံး၊ ရှမ်းပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

Swe Zin Phyo Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

မူးတွဲ



## နွား/နွားမများ ဝယ်ယူသယ်ဆောင်မည့် အစီအစဉ်

| စဉ် | တိုင်းဒေသကြီး | ဝယ်ယူသယ်ဆောင်မည့် နွား/နွားမ | | | မှတ်ချက် |
|---|---|---|---|---|---|
| | | ကောင်ရေ | အမျိုးအစား | ကာလ | |
| ၁ | မကွေးတိုင်း | ၆၀၀ | ဝိန်လိုသော၊ ခိုင်းနွားများအဖြစ် | ၂၀၁၇ ခုနှစ် | |
| ၂ | စစ်ကိုင်းတိုင်း | ၄၀၀ | အသုံးပြုခြင်းမရှိသော၊မျိုးနွားမအဖြစ် | နိုဝင်ဘာလမှ | |
| ၃ | မန္တလေးတိုင်း | ၄၀၀ | အသုံးပြု၍ မရသော နွား/နွားမများ | ၂၀၁၈ ခုနှစ် | |
| | | | | မေလအတွင်း | |
| | စုစုပေါင်း | ၁၄၀၀ | | | |

စာအမှတ်၊ ရေကာ-၉/ [illegible] /၂၀၁၇ ( [illegible] )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဒီဇင်ဘာ ၁၈

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

အမိန့်ကြော်ငြာစာအမှတ်၊ ၄၉ / ၂၀၁၇
၁၃၇၉ ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၄ ရက်
( ၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ၉ ရက် )

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသည် ပို့ကုန်သွင်းကုန်ဥပဒေ ပုဒ်မ-၁၃၊ ပုဒ်မခွဲ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်ကို ကျင့်သုံး၍ ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူညီချက်ဖြင့် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

**ကျွဲ၊ နွားအရှင်များအား ပြည်ပသို့တရားဝင်တင်ပို့ခွင့်ပြုခြင်း**

၁။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနသည် နိုင်ငံတော်မှ အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိသော ဈေးကွက်စီးပွားရေးစနစ်နှင့်အညီ ရောင်းလိုအားနှင့် ဝယ်လိုအားအရ ဖြစ်ပေါ်နေသော လွတ်လပ်သည့်ဈေးကွက်ကို ဖော်ဆောင်နိုင်ရန်နှင့် တရားမဝင်တင်ပို့မှုများအား တရားဝင်လမ်းကြောင်းပေါ်သို့ ရောက်ရှိစေရန်၊ မွေးမြူရေးတောင်သူများ ဝင်ငွေနှင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိစေရန်နှင့် တောင်သူလယ်သမားတို့၏အကျိုးစီးပွားကို ပိုမိုကာကွယ်ဆောင်ရွက် နိုင်ရန် ရည်ရွယ်၍ ကျွဲ၊ နွားအရှင်များအား ပြည်ပသို့ စည်းမျဉ်းစည်းကမ်းများနှင့်အညီ တရားဝင် တင်ပို့ခွင့်ပြုလိုက်သည်။

၂။ ပြည်ပသို့ ကျွဲ၊ နွားများ တင်ပို့မည့်သူများအနေဖြင့် ဝယ်ယူစုဆောင်းခြင်း၊ တိရစ္ဆာန်ကျန်းမာရေးစစ်ဆေးခြင်း၊ ပြည်တွင်းနယ်ကျော်သယ်ဆောင်ခြင်းများအား စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာနနှင့် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနတို့၏ လုပ်ထုံးလုပ်နည်းနှင့် စည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်သွားရမည်။

၃။ ပြည်ပသို့ ကျွဲ၊ နွားအရှင်များ တင်ပို့ခြင်းကို ဈေးကွက်အခြေအနေနှင့် ပြည်တွင်း မွေးမြူထုတ်လုပ်နိုင်မှုအခြေအနေများပေါ်မူတည်၍ သတ်မှတ်လုပ်ထုံးလုပ်နည်းများနှင့်အညီ ၂၀၁၇ ခုနှစ် ၊ အောက်တိုဘာလ ၉ ရက်နေ့မှ စ၍ ဆောင်ရွက်ခွင့်ပြုသည်။

(ပုံ)
ဒေါက်တာသန်းမြင့်
ပြည်ထောင်စုဝန်ကြီး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန